ကုမ္ပဏီအမည် - CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်)

လုပ်ငန်း - အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သား အရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၉-၂-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၄-၂-၂၀၁၆ | ၁၃-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၄-၂-၂၀၁၆ | ၁၄-၃-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၄-၂-၂၀၁၆ | ၁၄-၃-၂၀၁၆ | |
| ၃ | PAT တင်ပြခြင်း | ၇/၂၀၁၆<br>၁၆-၂-၂၀၁၆ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၄-၂-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ အဆိုပြုချက်များပေးပို့ခြင်း | ၂၁-၃-၂၀၁၆ | | |
| ၆ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ပြုစုခြင်း | ၉-၆-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၁၂၀ ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီလီမိတက်) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာနှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်း | - အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သား အရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ |
| တည်နေရာ | - မြေကွက်အမှတ် (၁၆၀)၊ စက်မှုဇုန် (၂)၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ စုစုပေါင်း မြေဧရိယာ ၂.၈၅ ဧက (၁၁၅၃၃.၅၅၁ စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄၀၀၀.၀၀ သန်း |
| အရင်းကြေကာလ | - ၅ နှစ် နှင့် ၁ လ |
| IRR | - ၁၉.၂၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၇၂.၄၄ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၄၇၄၃.၀၀ | ၃၇၇၄၀.၀၀ |
| ၅ | ဝင်ငွေခွန် | ၈၂၅.၂၆ | ၁၉၃၄.၆၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၂၈၇.၄၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်းထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၅၀.၂၆၅ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၆၉ ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၅၆၄၂.၃၈ | ၄၀၀၁၃.၄၄ |
| | Cost : Benefit | ၁ : ၇ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်) မှ အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သား အရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်) |
| | ကမကထပြုသူ | - ဦးတင်မြင့်နီ (အဘ-ဦးတင်လှ) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | - အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သား အရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် (၁၆၀)၊ စက်မှုဇုန် (၂)၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| | မြေပိုင်ရှင် | - ဦးမောင်မောင်လေး |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂.၈၅ ဧက (၁၁၅၃၃.၅၅၁ စတုရန်းမီတာ) |
| ၅။ | မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၃၁.၅၀ သန်း (တစ်လလျှင် ကျပ် ၂,၆၂၅,၀၀၀) |
| | မြေငှားရမ်းကာလ | - ကနဦး ၂၀ နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ၂၀ နှစ် |
| ၆။ | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၄၀၀၀.၀၀ သန်း** |
| | | **ကျပ် (သန်း)** |
| | | ငွေသား ၁၃၀၆.၀၀ (US$ ၁.၀၀ သန်း အပါအဝင်) |
| | | စက်ပစ္စည်း ၁၅၉၈.၇၂ (US$ ၀.၁၂၅ သန်း အပါအဝင်) |
| | | အဆောက်အဦ ၁၀၈၈.၈၃ |
| | | ရုံးသုံးပစ္စည်းများ ၆.၄၅ |
| | | **စုစုပေါင်း** ၄၀၀၀.၀၀ (US$ ၁.၁၂၅ သန်း အပါအဝင်) |
| ၈။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တည်ဆောက်မှုကာလအတွင်း တင်သွင်းမည့် စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်းများကို တင်ပြထားပါသည်။ |

<table>
<tr><td>၉။</td><td>ဝန်ထမ်းအင်အား</td><td>- စုစုပေါင်း ၆၉ ဦး<br>- ပြည်တွင်း ၆၉ ဦး<br>(ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၁၀။</td><td>ရောင်းချမည့် နည်းစနစ်</td><td>- Veneer ကို ပြည်ပသို့ ၁၀၀ % တင်ပို့ရောင်းချမည်ဖြစ်ပြီး Plywood ကို ပြည်ပ ၈၀ % နှင့် ပြည်တွင်း ၂၀ % ရောင်းချမည်ဖြစ် ပါသည်။</td></tr>
<tr><td>၁၁။</td><td>ကုမ္ပဏီ၏ဝင်ငွေ(ဆဌမနှစ်)<br>ကုမ္ပဏီ၏ အသုံးစရိတ်<br>ကုမ္ပဏီ၏အသားတင်<br>အမြတ်</td><td>- ကျပ် ၄၇,၃၇၉.၆၀ သန်း<br>- ကျပ် ၄၆,၇၉၉.၂၄ သန်း<br>- ကျပ် ၅၈၀.၃၆ သန်း</td></tr>
<tr><td>၁၂။</td><td>နိုင်ငံတော်မှ ရရှိမည့် အကျိုး<br>အမြတ် (၆)နှစ်မြောက်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်</td><td><br><br>- ကျပ် ၁၉၃.၄၆ သန်း<br>- ကျပ် ၉၆၇၇.၁၁ သန်း</td></tr>
<tr><td>၁၃။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(နှစ်စဉ်)</td><td>- ၇၂၀,၀၀၀ kWh</td></tr>
<tr><td>၁၄။</td><td>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်<br>(၆)နှစ်မြောက်</td><td>
<table>
<tr><td rowspan="2">စဉ်</td><td rowspan="2">ပစ္စည်း အမျိုးအစား</td><td rowspan="2">အရေ အတွက် (တန်)</td><td colspan="2">ရောင်းချမည့် နည်းစနစ်</td><td colspan="2">ရောင်းဈေးနှုန်း</td></tr>
<tr><td>ပြည်ပ (တန်)</td><td>ပြည်တွင်း (တန်)</td><td>ပြည်ပ (US$/Ton)</td><td>ပြည်တွင်း (ကျပ်/တန်)</td></tr>
<tr><td>(က)</td><td>Veneer</td><td>၁၀၂၀၀</td><td>၁၀၂၀၀</td><td>-</td><td>၂၃၄၆.၀၀</td><td>-</td></tr>
<tr><td>(ခ)</td><td>Plywood</td><td>၆၀၀၀</td><td>၄၈၀၀</td><td>၁၂၀၀</td><td>၂၈၅၆.၀၀</td><td>၁,၈၄၅,၀၀၀</td></tr>
</table>
</td></tr>
<tr><td>၁၅။</td><td>ကုမ္ပဏီမှ CSR<br>ဆောင်ရွက်မည့်အစီအစဉ်</td><td>- လုပ်ငန်းမှ လည်ပတ်ဆောင်ရွက်ရာမှ ရရှိမည့် အသားတင် အမြတ်ငွေ၏ ၂% အား လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။</td></tr>
<tr><td>၁၆။</td><td>အခြားတင်ပြချက်</td><td>- CO2 Solutions Co., LTd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်)၏ MOA, AOA၊ ပုံစံ (၆/၂၆) ၊ ဒါရိုက်တာ စာရင်း တို့ကို တင်ပြထား ပါသည်။<br>- မြေပိုင်ရှင် ဦးမောင်မောင်လေးနှင့် မြေငှားရမ်းသူ ဦးတင်မြင့်နို (CO2 Solutions Co., LTd. ကိုယ်စား) ချုပ်ဆိုမည့် မြေငှားရမ်း စာချုပ် (မူကြမ်း)တင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | - မြေပိုင်ရှင် ဦးမောင်မောင်လေး၏ မြေပိုင်ဆိုင်မှု အထောက်အထား များ တင်ပြထားပါသည်။<br>- ဒါရိုက်တာစာရင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူ များကိုတင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် ကမ္ဘောဇဘဏ်လီမိတက်တွင် CO2 Solutions Co., Ltd. အမည်ဖြင့် (၂၄-၁၂-၂၀၁၅)ရက်နေ့အထိ ကျပ် ၅၄၀,၀၀၉, ၉၅၉.၀၀ ရှိကြောင်း တင်ပြ ထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် ၊ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ အလုပ်သမားများ လစာ အပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ ပတ်ဝန်းကျင် ထိန်းသိန်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက် တို့ကို တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ လိုအပ်သော သစ်ကုန်ကြမ်းများအား မြန်မာ့သစ်လုပ်ငန်း မှ လေလံတင် ရောင်းချသည့် သစ်များ၊ မြန်မာ့သစ်လုပ်ငန်းမှ တရားဝင် သစ်ဝယ်ယူရရှိထားသည့် လုပ်ငန်းရှင်များမှ ဝယ်ယူဆောင်ရွက် သွားမည် ဖြစ်ပါကြောင်း၊ သစ်ကုန်ကြမ်း ရေရှည် စီမံချက်အဖြစ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ ပုဂ္ဂလိက သစ်တော စိုက်ခင်းမြေ ရရှိရေး ဆောင်ရွက် သွားမည်ဖြစ်ပြီး ပထမစီမံချက်အဖြစ် ပဲခူးတိုင်း ဒေသကြီး၊ ရွှေကျင် မြို့နယ်၊ ကွင်းဆိပ် ကျေးရွာအနီးတွင် သစ်တောစိုက်ခင်းဧက (၇၀၀)အား စိုက်ပျိုးနိုင်ရေး အတွက် ဆောင်ရွက်လျက် ရှိပါကြောင်း တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1US$= ၁၂၀၀ ကျပ် ဖြင့် တင်ပြ ထားပါသည်။ |
| ၁၇။ | စိစစ်တင်ပြချက် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ (၂၀) အရ ခံစားခွင့်ရှိသော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် လျှောက်ထားစာ တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက - ၂/ မ-၂၂၃/ ၂၀၁၆ ( ၄၇၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၁၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် CO2 Solutions Co., LTd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီလီမိတက်) မှ အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သားအရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ**

၁။ CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်) မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံ( ဆိပ်ကမ်း) မြို့နယ်၊ စက်မှုဇုန် (၂)၊ မြေကွက် အမှတ် ၁၆၀ ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၂.၈၅ ဧက (၁၁၅၃၃.၅၅၁ စတုရန်းမီတာ) တွင် အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သား အရွယ်စုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတင်မြင့်နီ (အဘ-ဦးတင်လှ) မှ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၂၀နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၈ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၁၂၅ သန်း အပါအဝင် စုစုပေါင်း ကျပ် ၄၀၀၀.၀၀ သန်း ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) | |
|---|---|---|---|
| (က) | ငွေသား | ၁၃၀၆.၀၀ | (US$ ၁.၀၀ သန်း အပါအဝင်) |
| (ခ) | စက်ပစ္စည်း | ၁၅၉၈.၇၂ | (US$ ၀.၁၂၅ သန်း အပါအဝင်) |
| (ဂ) | အဆောက်အဦ | ၁၀၈၈.၈၃ | |
| (ဃ) | ရုံးသုံးပစ္စည်းများ | ၆.၄၅ | |
| | **စုစုပေါင်း** | **၄၀၀၀.၀၀** | (US$ ၁.၁၂၅ သန်း အပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၆၉ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၁၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ထုတ်ကုန်များဖြစ်သည့် Veneer ကို ၁၀၀ % ပြည်ပ တင်ပို့မည်ဖြစ်ပြီး Plywood ကို ပြည်ပ ၈၀ %၊ ပြည်တွင်း ၂၀ % ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (တန်) | ရောင်းချမည့် နည်းစနစ် | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|---|---|
| | | | ပြည်ပ (တန်) | ပြည်တွင်း (တန်) | ပြည်ပ (US$/Ton) | ပြည်တွင်း (ကျပ်/တန်) |
| က | Veneer | ၁၀,၂၀၀ | ၁၀,၂၀၀ | - | ၂,၃၄၆.၀၀ | - |
| ခ | Plywood | ၆,၀၀၀ | ၄,၈၀၀ | ၁,၂၀၀ | ၂,၈၅၆.၀၀ | ၁,၈၄၅,၀၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆ နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့်တွက်ချက်ထားပါသည်-

(က) ဝင်ငွေ - ကျပ် ၄၇,၃၇၉.၆၀ သန်း

(ခ) အသုံး စရိတ် - ကျပ် ၄၆,၇၉၉.၂၄ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၅၈၀.၃၆ သန်း

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၉၃.၄၆ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၉၆၇၇.၁၁ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် နှင့် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၁၉.၂၄% ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိမြို့ပြစီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်း

နှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း၊ ၁၁-၃-၂၀၁၆ ရက်နေ့ တွင်ကျင်းပသော ရန်ကုန်တိုင်းဒေသကြီးအစိုးအရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁)အရ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိမ်းသိမ်းရေး ဝန်ကြီးဌာန (ယခင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန) ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်းအဖွဲ့** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သစ်တောဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့် စိစစ်ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း၊ ရေရှည် သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက စိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့်ကို လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ သစ်ကုန် ကြမ်း များရရှိရေးအတွက် မြန်မာ့သစ်လုပ်ငန်းက ကျင်းပပြုလုပ်သည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း၊ ရေရှည် ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင် သစ်တော သယံဇာတ အရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှ တားမြစ်ခြင်းမရှိသည့် သစ်မျိုးများတင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အား ဖြည့်ဆည်းနိုင်ပါကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်စနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ် များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်း စစ်ခြင်းလုပ်ထုံးလုပ်နည်းနှင့်အညီ အစီရင်ခံစာ ရေးဆွဲတင်ပြရန် နှင့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည် စီမံ

ခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်း များအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည် ဖော်ဆောင်ရွက် ရန်လိုအပ်ကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ IEE နှင့် EMP ရေးဆွဲရေးနှင့် ပုဂ္ဂလိကသစ်စိုက်ခင်း တည်ထောင်ရေးအတွက် ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု နှင့် ဘွိုင်လာ အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။

**နောက်ဆက်တွဲ-ဂ**

၉။ ငွေကြေး အထောက်အထားအဖြစ် ကမ္ဘောဇဘဏ်လီမိတက်တွင် CO2 Solutions Co., Ltd. အမည်ဖြင့် (၂၄-၁၂-၂၀၁၅)ရက်နေ့အထိ ကျပ် ၅၄၀,၀၀၉, ၉၅၉.၀၀ ရှိကြောင်း တင်ပြ ထားပါသည်။

၁၀။ CO2 Solutions Co., LTd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်) သည် ကုမ္ပဏီ မှတ်ပုံတင် အမှတ်-၆၈၀/၂၀၁၂-၂၀၁၃(၂၈-၅-၂၀၁၂)ဖြင့် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ပုံစံ (၆/၂၆) တို့ကို တင်ပြ ထားပါသည်။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသား၄ ဦးဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး၊ မည်သည့် နိုင်ငံခြားသားမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ မီးဘေး ကြိုတင်ကာကွယ်မှုအတွက် မီးသတ်ဗူးများ ထားရှိမည်ဖြစ်ကြောင်း၊ မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျစေလွှတ်၍ တက်ရောက်စေမည်ဖြစ်ကြောင်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့် အညီ IEE နှင့် EMP တို့ကို ရေးဆွဲတင်ပြ သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် စက်ရုံဝန်ထမ်း အလုပ်သမားများအတွက် ဝန်ထမ်းသက်သာချောင်ချိရေးအတွက် စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ပါကြောင်း၊ လုပ်ငန်းကျွမ်းကျင်မှု သင်တန်းများအား အလျဉ်းသင့်သလို စီစဉ်၍ တက်ရောက် စေမည် ဖြစ်ပါကြောင်း၊ ဝင်ငွေခွန်ပေးဆောင်ခြင်းနှင့်ပတ်သက်၍ ဝန်ထမ်းများ၏ လစာငွေတစ်နှစ်လျှင် ဝင်ငွေ ကျပ် ၄၈ သိန်း ထက် ကျော်လွန်ပါက ဝင်ငွေခွန်ကို သတ်မှတ်ထားသည့်နှုန်းများအတိုင်း ပေးဆောင်ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ လျှပ်စစ်ဓာတ်အား ရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ CO2 Solutions Co., LTd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်) သည် မြန်မာ နိုင်ငံအတွင်းရှိ လူမှုအဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေ အဖြစ် ထားရှိသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ သစ်ကုန်ကြမ်းရရှိရေးနှင့် စပ်လျဉ်း၍ မြန်မာ့သစ်လုပ်ငန်း မှ လေလံတင် ရောင်းချသည့်သစ်များ၊ မြန်မာ့သစ်လုပ်ငန်းမှ တရားဝင် သစ်ဝယ်ယူရရှိထားသည့် လုပ်ငန်းရှင်များမှ ဝယ်ယူဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ သစ်ကုန်ကြမ်း ရေရှည်စီမံချက်အဖြစ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ ပုဂ္ဂလိက သစ်တော စိုက်ခင်းမြေ ရရှိရေးဆောင်ရွက် သွားမည်ဖြစ်ပြီး ပထမစီမံချက်အဖြစ် ပဲခူးတိုင်း ဒေသကြီး၊ ရွှေကျင် မြို့နယ်၊ ကွင်းဆိပ်ကျေးရွာအနီးတွင် သစ်တောစိုက်ခင်းဧက (၇၀၀)အား စိုက်ပျိုးနိုင်ရေးအတွက် ဆောင်ရွက်လျက်ရှိပါကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ၇/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ မြေအသုံးပြုခွင့်နှင့်စပ်လျဉ်း၍ စက်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနမှ မြေပိုင်ရှင် ဦးမောင်မောင်လေးသို့ စက်မှု

လက်မှုလုပ်ငန်း မြေအဖြစ် အသုံးပြုခွင့်ပြုသည့် အထောက်အထားနှင့် မြေအထောက်အထားများ တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီ လီမိတက်) မှ အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သား အရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတင်မြင့်နီ (အဘ-ဦးတင်လှ)မှ အဆိုပြုချက် တင်ပြလာခြင်း အပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှော့စာတွဲ



MIC memo CO




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၃ ရက်

သို့

MIC, 138 / 5/3

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက.- ၂/ မ-၂၃၃/၂၀၁၆(၁၈၄-က)

၁။ CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီလီမိတက်)သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်-၁၆၀ ရှိ မြေ(၂. ၈၅)ဧကတွင် အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သားအရွယ်စုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်-၁၆၀ ရှိ မြေ(၂. ၈၅)ဧကအား တစ်နှစ်လျှင် ကျပ်(၃၁၅)သိန်းနှုန်း (1sqft=253.73 kyat, 1sqm=2731 kyat) နှုန်းဖြင့် ကနဦး(၂၀)နှစ်နှင့် နှစ်တိုး(၅)နှစ်(၂)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၁. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁)အရ CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီလီမိတက်)၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ် ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
CO2 Solutions Co., Ltd. (စီအိုတူး ဆိုလူးရှင်း ကုမ္ပဏီလီမိတက်)
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/11.,(14)

MIC, 136/1513




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၈၅ /၁၆ )
ရက် စွဲ ၂၀၁၆ခုနှစ် မတ် လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **$CO_2$ Solutions Co.,Ltd မှ သစ်ပါးလွှာနှင့်အထပ်သားအရွယ်စုံထုတ်လုပ်ခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သတ်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၃၃/ ၂၀၁၆(၁၈၄-၈)

၁။ $CO_2$ Solutions Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံ(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်-၁၆၀ရှိမြေ ၂.၈၅ဧကတွင် အရည်အသွေးမြင့်သစ်ပါးလွှာနှင့် အထပ်သားအရွယ်စုံထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၂၀)နှင့်(၅)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁၈)လဖြစ်ကြောင်း၊ ထုတ်လုပ်မှုပမာဏအနေဖြင့်(၅)နှစ်မှ(၂၀)နှစ်အတွင်း Veneer 10200 cu Ton နှင့် Plywood 6000 cu Ton ကိုထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကာကွယ်ရေးအစီအမံများကိုလည်း ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)ကိုလူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု ( Corporate Social Respon- sibility – CSR )လုပ်ငန်းများတွင် ထည့်ဝင်သုံးစွဲသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ စက်ရုံ၏လုပ်ငန်းခွင်မှထွက်ရှိလာသော အမှိုက်မျိုးစုံအား အမျိုးအစားခွဲခြားစွန့်ပစ်စေပြီး၊ စက်မှုဇုန်နှင့်မြို့နယ်စည်ပင်သာယာရေးကော်မတီတို့၏အစီအမံဖြင့်

စနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ရေနုတ်မြောင်းများ၏ သန့်ရှင်းရေးနှင့်ရေစီးရေလာ ကောင်းမွန်ရေးကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ $CO_2$ Solutions Co.,Ltd မှ သစ်ပါးလွှာနှင့်အထပ်သားအရွယ်စုံထုတ်လုပ်ခြင်းလုပ်ငန်းများတွင် ဓာတုဗေဒပစ္စည်းများကို သုံးစွဲရန်လိုအပ်ခြင်း၊ သစ်အမှုန်အမွှားနှင့်အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှထွက်ရှိလာမည့် ဆူညံသံများကြောင့် အသံညစ်ညမ်းခြင်း၊ သစ်လုံးများခွဲစိတ်ရာတွင်လွှများ၊ အခြားကိရိယာပစ္စည်းများအား စနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများ၏ ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ $CO_2$ Solutions Co.,Ltd မှ သစ်ပါးလွှာနှင့်အထပ်သားအရွယ်စုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် သစ်တောဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စီစစ်ဆောင်ရွက်သွားရန်လိုအပ်မည်ဖြစ်ကြောင်း၊ ရေရှည်ကုန်ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိကစိုက်ခင်းများစိုက်ပျိုးတည်ထောင်ခွင့်ကိုလျှောက်ထားပြီးဆောင်ရွက်သွားရန်လိုအပ်ပါကြောင်း၊ သစ်ကုန်ကြမ်းများရရှိရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှကျင်းပပြုလုပ်သည့် ပြည်တွင်း/ပြည်ပအိတ်ဖွင့်တင်ဒါများတွင်ဝင်ရောက်ယှဉ်ပြိုင်နိုင်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကိုပြည်ပမှတင်သွင်းခြင်းအားဖြင့်လည်း နိုင်ငံပိုင်သံယံဇာတအရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှတားမြစ်ထားခြင်းမရှိသည့် သစ်အမျိုးအစားများကိုတင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အားဖြည့်ဆည်းနိုင်ပါကြောင်းဖော်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ $CO_2$ Solutions Co.,Ltd မှ သစ်ပါးလွှာနှင့်အထပ်သားအရွယ်စုံထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြု

လွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility – CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination – IEE )**ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်။

( ဂ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan - EMP )**အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ သစ်တောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

( င ) ကုန်ကြမ်းပစ္စည်းများနှင့်ပတ်သက်၍ အပိုဒ်(၄)ပါ အကြံပြုချက်များပါအတိုင်းဆောင်ရွက်ရန်။

( စ ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သ

ဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ



MIC, 135 / 1413

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၄၃၇၃)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၄ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ-၂၃၃/ ၂၀၁၆ (၁၈၄-ခ)

၁။ CO2 Solutions Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံ(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ် (၁၆၀)တွင် အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သားအရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သားအရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ CO2 Solutions Co.,Ltd. မှ အရည်အသွေးမြင့် သစ်ပါးလွှာနှင့် အထပ်သား အရွယ်စုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့်စပ်လျဉ်း၍ အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

4.2.2016

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(တင်ဝင်း၊ လက်ထောက်အတွင်းဝန်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန